လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-ဖ(ခ)/န-၉၄၄/၂၀၁၄(၄၈၄၂)

ရက်စွဲ၊ ၂၀၁၄ ခုနှစ် မေ လ ၁၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Yoma Sun Co., Ltd. မှ Contract farming စနစ်ဖြင့် ဆန်စပါး စိုက်ပျိုးထုတ်လုပ်ခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်း၊ စိုက်ပျိုးရေးနှင့် ရိတ်သိမ်း ချိန်လွန် နည်းပညာရပ်များ အသုံးချလုပ်ဆောင်ခြင်း၊ အရည်အသွေးမီ အဆင့်မြင့် ဆန်နှင့် ပေါင်းဆန်ကြိတ်ခွဲမှုလုပ်ငန်းများ လုပ်ဆောင် ခြင်း၊ အဆင့်မြင့် ဆန်စပါး သိုလှောင်ရုံ လုပ်ငန်းများ ဆောင်ရွက်ခွင့် ပြုပါ ရန် တင်ပြလာခြင်း ကိစ္စ**

၁။ ဂျပန်နိုင်ငံ Mr. Koji Fusa မှ ၅၀% နှင့် မြန်မာနိုင်ငံ Aung Naing Thitsar Co., Ltd. မှ ၅၀% ဖက်စပ်ပြု၍ မြန်မာနိုင်ငံတွင် Yoma Sun Co., Ltd. တည်ထောင်ကာ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ ပြည်ခရိုင်၊ သဲကုန်းမြို့နယ်၊ ပုတီးကုန်း ကျေးရွာ အုပ်စု၊ ဦးပိုင်အမှတ်၁၃၂/၁၊ ကျောင်းကုန်းကွင်း၊အမှတ်၉၉၁တွင် Contract farming စနစ်ဖြင့် ဆန်စပါး စိုက်ပျိုး ထုတ်လုပ်ခြင်း၊ မျိုးစေ့ ထုတ်လုပ်ခြင်း၊ စိုက်ပျိုးရေးနှင့် ရိတ်သိမ်း ချိန်လွန်နည်း ပညာရပ်များ အသုံးချလုပ်ဆောင် ခြင်း၊ အရည်အသွေးမီ အဆင့်မြင့် ဆန်နှင့် ပေါင်းဆန် ကြိတ်ခွဲမှု လုပ်ငန်းများ လုပ်ဆောင်ခြင်း၊ အဆင့်မြင့် ဆန်စပါးသိုလှောင်ရုံလုပ်ငန်းများ လုပ်ဆောင်ခြင်း တို့အား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ အဆိုပြု တင်ပြလာ ပါသည်။

၂။ အဆိုပြုချက်နှင့် အတူ ဖက်စပ်စာချုပ်(မူကြမ်း)၊ Yoma Sun Co., Ltd.. နှင့် မြေပိုင်ရှင် ဖြစ်သော ဦးအောင်ဇော်ဦး တို့ချုပ်ဆိုသည့် မြေနှင့် အဆောက် အဦ ငှားရမ်းစာချုပ် (မူကြမ်း)၊ Yoma Sun Co., Ltd. ၏ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ နှင့် ယာယီမှတ်ပုံတင်ကတ် (မိတ္တူ)နှင့် မြေ အထောက် အထားအဖြစ် ပဲခူးတိုင်းဒေသကြီး၊ ပြည်ခရိုင်၊ သဲကုန်းမြို့နယ်၊ ပုတီးကုန်းကျေးရွာ အုပ်စု ၊ကွင်း အမှတ် (၉၉၁) ကျောင်းကုန်းကွင်း၊ ဦးပိုင်အမှတ် ၁၃၂/၁ မြေနေရာတွင် လယ်ယာမြေ (၂.၈၃) ဧက ကို စက်မှုလုပ်ငန်းအဖြစ် အသုံးပြုရန် ခွင့်ပြုမိန့် အထောက်အထား မှတ်တမ်းများ နှင့် အတူ လုပ်ငန်း တည်နေရာ ပြပုံများကိုတင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏ US$ ၁၉ သန်းဖြစ်ပြီး ပြည်ပမှ US$ ၉.၅ သန်းနှင့် ပြည်တွင်းမှ US$ ၉.၅ သန်းပါဝင်သည်။ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ တစ်ဖက် ပါ အတိုင်း ဖြစ်ပါသည်-

US$ (သန်း)

| | နိုင်ငံခြား မတည်ငွေရင်း | ပြည်တွင်း မတည်ငွေရင်း | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၀.၁၅၀ | | ၀.၁၅၀ |
| စက်နှင့်စက်ပစ္စည်းကိရိယာများ | ၉.၂၄၉ | ၁.၀၂၀ | ၁၀.၂၆၉ |
| ပရိဘောဂ(ပြည်တွင်းဝယ်) | ၀.၁၀၁ | | ၀.၁၀၁ |
| မြေနှင့်အဆောက်အဦငှားရမ်းခ | | ၀.၆၈၈ | ၀.၆၈၈ |
| အဆောက်အဦတည်ဆောက်မှု | | ၇.၇၉၂ | ၇.၇၉၂ |
| **စုစုပေါင်း** | **၉.၅၀၀** | **၉.၅၀၀** | **၁၉.၀၀၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန် နေ့စားဝန်ထမ်း ၈၀၀ ဦးနှင့် အမြဲတမ်း ဝန်ထမ်း ၁၉၈ ဦး ခန့်ထားနိုင်မည် ဖြစ်ပါသည်။ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။

၅။ လုပ်ငန်းသက်တမ်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး နှစ်ဖက်သဘောတူညီချက်ဖြင့် နောက်ထပ် ၁၀ နှစ် ၂ ကြိမ် တိုးမြှင့်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလ ၅ နှစ် ဖြစ်ပါသည်။

၆။ မြေနှင့်အဆောက်အဦ ငှားရမ်းသက်တမ်းမှာ နှစ် ၃၀ ဖြစ်ပြီး သက်တမ်းတိုး ၁၀ နှစ်နှစ်ကြိမ် ဖြစ်ပါသည်။ နှစ်စဉ် ငှားရမ်းခမှာ ၂.၈၃ ဧက (၁၁၄၅၂.၆၁၄ စတုရန်းမီတာ) အတွက် တစ်နှစ် ငှားရမ်းခ US$ ၂၂,၉၂၀ ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၂.၀၀၁ နှုန်းဖြင့် ငှားရမ်းမည် ဖြစ်၍ နှစ် ၃၀ အတွက် မြေနှင့် အဆောက်အဦငှားရမ်းခ US$ ၆၈၇,၆၀၀ ဖြစ်ပါသည်။ အဆိုပါ US$ ၆၈၇,၆၀၀ကို မတည်ငွေရင်း အဖြစ် ထည့်ဝင်မည် ဖြစ်ပါသည်။

၇။ မြေနှင့်အဆောက်အဦငှားရမ်းခြင်းစာချုပ် အပိုဒ် ၉ တွင် ငှားရမ်းခကို နှစ်သုံးဆယ်ပြည့်ပါက ၁၀% ထက် မပိုစေဘဲ တိုးမြှင့် သွားမည် ဖြစ်ပါ သည်။အဆောက်အဦ ၁၂ လုံး ပါဝင်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ လုပ်ငန်းတွင် အသုံးပြုမည့် အဆိုပါ အဆောက်အဦ ၁၂လုံး၏ ဧရိယာများကို ပုံစံ ၁နှင့် အသုံးပြုမည့် အစီအစဉ်အသေးစိတ်ကို ပူးတွဲ၍ လည်းကောင်း၊ ထိုအဆောက်အဦများ၏ Building Qualities (BQ) နှင့် Layout Plan of Factory ကိုပါ အသေးစိတ် တင်ပြထားပါသည်။

၈။ လုပ်ငန်းမှ ထွက်ရှိလာသော ဆန်စပါးနှင့် မျိုးစေ့ကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါ သည်။ ပုံမှန်နှစ်တွင် ဆန်ကြိတ်ခွဲရောင်းချခြင်းအတွက် တန်ချိန် ၈၀၀၀ ထုတ်လုပ်မည်ဖြစ်ပြီး ရောင်းချသည့် ဈေးနှုန်းမှာ တစ်တန် လျှင် US$ ၉၂ နှင့် တစ်နှစ် ရောင်းချသည့် ဝင်ငွေ မှာ US$ ၇.၃၆သန်းဖြစ်ပါသည်။

၉။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၇.၃၆၀ |
| (ခ) | အသုံးစရိတ် | ၇.၂၂၃ |
| (ဂ) | အသားတင်အမြတ် | ၀.၁၃၇ |

၁၀။ လုပ်ငန်း၏ အရင်းကြေကာလ မှာ ၁၉ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်းမှာ ၃.၉၂ % ဖြစ်ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၁၆၈ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၀.၃၆၈ သန်း ဖြစ်ပါသည်။ တစ်ဒေါ်လာလျှင် ကျပ် ၉၅၀ နှုန်း ဖြင့် တွက်ချက်ထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားမှတ်ချက်များပြန်ကြား ထားပါသည်-

(က) **ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် လက်ရှိမြို့ပြစီမံကိန်း နယ်မြေများ၏ ပြင်ပတွင် ကျရောက်သဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်ခြင်းမရှိပါကြောင်း၊ အဆိုပါ စက်ရုံတည်ဆောက်မည့် ပုတီးကုန်းမြို့သည် ဧရိယာ (၂၆၀၀)ဧက ကျယ်ဝန်းပြီး အိမ်ခြေ (၂၅၆၁)၊ အိမ်ထောင်စု(၂၆၈၄)၊ လူဦးရေ (၁၀၅၈၁)ဦး ရှိပြီး၊ မိုးစပါး စိုက်ဧရိယာ (၁၆၁၈)ဧကနှင့် နွေစပါးစိုက်ဧရိယာ(၃၅၀)ဧက စိုက်ပျိုး ထုတ်လုပ် နိုင်ပြီး၊ အနီးပတ်ဝန်းကျင် ကျေးရွာအုပ်စု(၁၁)အုပ်စုမှ ထွက်ရှိသည့် ဆန်စပါးများအား ပုံမှန်ကြိတ်ခွဲနေရာမှ အရည်အသွေးမီ အဆင့်မြင့်ဆန်နှင့် ပေါင်းဆန် ကြိတ်ခွဲမှုလုပ်ငန်းများ လုပ်ဆောင်မည် ဖြစ်သောကြောင့် ထုတ်လုပ်မှုတန်ဖိုးတိုးတက်ပြီး၊ အရည်အသွေးမြင့်ဆန်စပါးများ ထွက်ရှိလာမည်ဖြစ်ခြင်း၊ ဆက်စပ်လျက်ရှိသော တိုင်းဒေသကြီး/ပြည်နယ်များ အထိ ရောင်းဝယ်ဖောက်ကား နိုင်မည်ဖြစ်ရာ ဒေသခံပြည်သူများ၏ လုပ်အားခ(လုပ်ခလစာ)နှင့် မြို့နယ်၏ GDPကို တိုးတက် အထောက်အကူပြုနိုင်မည်ဖြစ်ခြင်း တို့ကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူ ဖြစ်ပေါ်လာနိုင်ကြောင်း၊ ဒေသခံပြည်သူများ၏ လူမှုရေး၊ စီးပွားရေးကို မထိခိုက်စေသည့်အပြင် အလုပ်အကိုင်များ ပါရရှိနိုင်ပြီး ပတ်ဝန်းကျင် ထိန်းသိမ်းမှုကိုလည်း ထိခိုက်မှုမရှိပါကြောင်း၊ တိုင်းဒေသကြီး၏ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို တစ်ဘက်တစ်လမ်းမှ အထောက်အကူ ဖြစ်စေ နိုင်မည်ဖြစ်ပါ ၍ သက်ဆိုင်ရာစက်ရုံအား သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်း ကာကွယ်ရေးကို စနစ်တကျ အလေးထား လိုက်နာဆောင်ရွက်စေကြောင်း သဘောထား ပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလွှာပါလုပ်ငန်း များကြောင့် ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှု များကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်း လည်ပတ် ခြင်းနှင့် ထုတ်လုပ် ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက် အလက် များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် အစီအစဉ်များ ရေးဆွဲ ပြီး လိုက်နာ ဆောင်ရွက်ရန်၊ စိုက်ပျိုး ရေး အလုပ်သမားများအား ပိုးသတ်ဆေး၊မြေသြဇာနှင့်သက်ဆိုင်သည့် အသိ ပညာပေး လုပ်ငန်းများ

ဆောင်ရွက် ပေးရန် နှင့် ဖြစ်နိုင်ပါ က ဓာတုဗေဒ ပိုးသတ်ဆေး များအစ ဇီဝ ပိုးသတ်ဆေး (Bio-pesticide) နှင့် ဇီဝမြေသြဇာ (Biofertilizer) Green Manufacturing များ အသုံးပြုပါရန်၊ စပါး ကြိတ်ခွဲ ခြင်း၊ ပြုတ်ဆန် ထုတ်လုပ် ခြင်းကြောင့် စက်ရုံမှ ထွက်ရှိလာမည့် စွန့်ပစ် အရည်များ၊ အခိုး အငွေ့ များ၊ အနံ့ အသက်များ၊ အမှုန်များအား သတ်မှတ် စံချိန် စံညွှန်း နှင့်အညီ စွန့်ပစ် နိုင် ရေး အတွက် အဆင့်မြင့် နည်းပညာနှင့် ကိရိယာ များ အသုံးပြု ဆောင်ရွက် ရန်၊ လုပ်ငန်းခွင်လေကောင်းလေသန့် ရရှိရေး၊ ပတ်ဝန်းကျင် သန့်ရှင်း ကောင်းမွန် ရေးအတွက် သင့်တော်မည့် ရေစီးရေလာ စနစ်ကို စီမံ ထားရှိရန်၊ ဆန်စက် ပတ်ဝန်းကျင်စိမ်းလန်း စိုပြည်ရေး အတွက် သစ်ပင်များနှင့် ပန်းအလှပင် များ စိုက်ပျိုးထားရှိရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေး တို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) လုပ်ငန်း ဆောင်ရွက်၍ အစီရင်ခံ တင်ပြရန်၊ အဆိုပါ ဆန်းစစ် တွေ့ရှိချက်များကို အခြေခံ၍ သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု မဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်အတွက် ဆောင်ရွက်မည့် အစီအစဉ်များ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plang - EMP) ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါ လုပ်ငန်းများကို အပြည့်အဝ အကောင်အထည် ဖော် ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် သက်ဆိုင်ရာဝန်ကြီးဌာနအသီးသီးမှထုတ်ပြန်ထားသောပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်းနှင့် ညွှန်ကြားချက် များကို တိကျစွာ လိုက်နာဆောင်ရွက်ရန် နှင့် သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံ လူထု၏ ဆန္ဒနှင့် သဘောထားများ ရယူ ဆောင်ရွက်ရန် ဖြစ်ကြောင်း သဘောထားပြန်ကြားလာပါသည်။**ကုမ္ပဏီမှပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက် မည် ဖြစ်ကြောင်း တင်ပြထားပါသည်။** **နောက်ဆက်တွဲ-ခ**

(ဂ ) **လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းဆောင်ရွက် လိုခြင်း အပေါ် ကန့်ကွက်ရန် မရှိပါကြောင်းနှင့် မျိုးစေ့ တင်သွင်းခြင်း၊ စိုက်ပျိုးခြင်း၊ ပြန်လည် ဝယ်ယူခြင်း လုပ်ငန်းများ ဆောင်ရွက်ရန် ရှိပါက လယ်ယာ စိုက်ပျိုး ရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားရှိသော မျိုးစေ့ ဥပဒေ၊ နည်းဥပဒေ နှင့် စိုက်ပျိုးရေး ဆိုင်ရာ ပြဋ္ဌာန်း ထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း များနှင့်အညီ လိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား ပြန်ကြား ထားပါသည်။ **ကုမ္ပဏီမှ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီး ဌာန မှ ပြဋ္ဌာန်း ထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ လိုက်နာ ဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြထားပါသည်။ နောက်ဆက်တွဲ-ဂ**

(ဃ) **စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းပါ အကြောင်း အရာနှင့် စပ်လျဉ်း၍ ဆန်စပါးလုပ်ငန်း၊ လယ်ယာ စိုက်ပျိုးရေး လုပ်ငန်းနှင့်



Inv.-1

သက်ဆိုင် သော အကျိုးတူကန်ထရိုက်လယ်ယာလုပ်ငန်း၊ လယ်ယာ သုံး စက်ကိရိယာများ၊ အငှားလိုက် ဝန်ဆောင်မှုလုပ်ငန်းစသည့် လုပ်ငန်းများ အပေါ် ဖက်စပ်စနစ်ဖြင့် သာ ခွင့်ပြုရန် နှင့် နိုင်ငံခြားသားအစုရှယ်ယာပါဝင်မှုကို (၄၉)ရာခိုင်နှုန်းအထိ အများဆုံး ခွင့်ပြုရန်၊ ကုန်သွယ်မှု ပြည်တွင်း/ပြည်ပ ရောင်းချမှုကို အဆိုပါဖက်စပ်ကုမ္ပဏီ၏ ယုပ်လုပ်မှု အပေါ်တွင် ခွင့်ပြုပေးရန် သဘောထား ပြန်ကြားထားပြီး ဖြစ်ပါကြောင်း၊ ယခု အဆိုပြု လုပ်ငန်း လုပ်ကိုင်ရန် လျှောက်ထားမှုတွင် ဂျပန်နိုင်ငံမှ Mr. Koji Fusa ၏ ပါဝင်မှု မှာ ၅၀% ဖြစ်ကြောင်း တွေ့ရှိရပါသဖြင့် မိမိဝန်ကြီးဌာန၏ သဘောထား ပြန်ကြားချက်နှင့် ကိုက်ညီမှု မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ ထုတ်ပြန်ထားသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများ သတ်မှတ်ခြင်း အမိန့် ကြော်ငြာစာတွင် တန်ဘိုးမြှင့် value added ပစ္စည်းများ ထုတ်လုပ်ခြင်း ကိုသာ ခွင့်ပြု မည်။ ဖက်စပ်စနစ်ဖြစ်ပါက တိုင်းရင်းသား လုပ်ငန်းရှင်မှ အနည်းဆုံး ၄၀% ပါဝင်ရမည်ဟု ထုတ်ပြန် ကြေငြာထားပါသည်။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ ယင်းအမိန့် ကြော်ငြာစာအတွက် သဘောထား တောင်းခံ ထားခြင်းသာ ဖြစ်ပြီး ပြန်လည်ပြင်ဆင် သည့် အမိန့်ကြေငြာစာ မထွက်ရှိသေးပါ။ နောက်ဆက်တွဲ-ဃ**

(င) **စက်မှုဝန်ကြီးဌာနမှ** ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည့်လုပ်ငန်း အစီအမံ ရှင်းလင်းမှု မရှိသဖြင့် သက်ဆိုင်ရာကျွမ်းကျင်ပညာရှင်မှ စိစစ်ရန် လို ကြောင်း၊ တပ်ဆင် အသုံးပြုမည့် ထရန်ဖော်မာအား လျှပ်စစ်ဥပဒေ နှင့်အညီ အသုံး မပြုမီ စစ်ဆေးရန် လိုအပ် ကြောင်း၊ စက်စမ်းသပ် လည်ပတ်နိုင်ပါက ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေ နှင့်အညီ စက်မှု မှတ်ပုံတင်ဆောင်ရွက်ရန်လိုကြောင်း သဘောထား ပြန်ကြား လာပါသည်။ **ကုမ္ပဏီမှ စက်မှု ဝန်ကြီးဌာန၏ သဘောထား မှတ်ချက် တွင် ဖော်ပြထားသော ညွှန်ကြားချက်အတိုင်း လုပ်ဆောင် မည့်အကြောင်း လုပ်ငန်း အစီအမံအသေးစိတ်ကို ပြင်ဆင်တင်ပြလာပါသည်။ အဆိုပါ ပြင်ဆင် ချက်ကို စက်မှုဝန်ကြီးဌာနမှ ပြန်လည် စိစစ်ပြီး ဖြစ်ပါသည်။ နောက်ဆက်တွဲ-င**

၁၃။ ငွေရေးကြေးရေး အထောက်အထား အဖြစ် Mr. Koji Fusa သည် ဟောင်ကောင်ရှိ LGT Bank တွင် (၃-၇-၂၀၁၃) ရက်စွဲဖြင့် US$ ၂,၆၆၆,၆၄၈.၆၇ ရှိကြောင်း၊ အောင်နိုင်သစ္စာ ကုမ္ပဏီ လီမိတက်သည် MFTB Bank တွင် (၁၂-၇-၂၀၁၃)ရက်စွဲဖြင့် US$ ၅၇၄,၈၃၇.၂၃ စသည်ဖြင့် ဘဏ် စာရင်း အသီးသီး ဖွင့်လှစ်ထားရှိကြောင်း အထောက်အထားများ၊ အောင်နိုင် သစ္စာကုမ္ပဏီ လီမိတက်၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ် မိတ္တူများ၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၄။ Yoma Sun Co.,Ltd. မှ လုပ်ငန်း သဘာဝရှင်းလင်းချက်၊ ဝန်ထမ်းများအတွက် နေ့ထူး နေ့မြတ်များတွင် အားကစားပြိုင်ပွဲ၊ ပျော်ပွဲရွှင်ပွဲများ၊ ပညာပေးဟောပြောပွဲများ အခါ အားလျော်စွာ စီစဉ်ဆောင်ရွက်ပေးမည်ဖြစ်ပြီး လုပ်ငန်းဆောင်ရွက်မှု အလိုက် ထူးချွန်ဆုများ ချီးမြှင့်ပေးခြင်းတို့ကို ဆောင်ရွက်ပေးမည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်၍ အမှိုက်များကို စနစ်တကျ စွန့်ပစ်စေမည် ဖြစ်ပါကြောင်း၊ လေထုညစ်ညမ်းမှု၊ အသံဆူညံမှု မဖြစ်ပေါ်အောင်လည်း တတ်နိုင်သမျှ စီစဉ်ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်းနှင့် ရပ်ရွာ အကျိုးပြုအစီအစဉ် (Corporate

Social Responsibility) အဖြစ် ရရှိသော အမြတ်ငွေမှ ၃% ကို သုံးစွဲမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။

၁၅။ **မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် စပ်လျဉ်း၍** စက်ရုံအတွင်းနှင့် အပြင်တွင် ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဗူးများကို အဆင်သင့် ထားရှိမည် ဖြစ်ပါကြောင်း၊ မီးဘေး အန္တရာယ် ကာကွယ်ရန် အတွက် စည်းကမ်းချက်များ ချမှတ်ထားပြီး၊ ဝန်ထမ်းများကိုလည်း မီးဘေး အန္တရာယ် အရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့် သင်ကြား ပေးမည်ဖြစ်ပါကြောင်း၊ လုပ်ငန်းခွင် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကိုလည်း တင်းကြပ်စွာတားမြစ်ထားရှိပြီး လျှပ်စစ်နှင့်ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။

၁၆။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၂)အပိုဒ် (၂၇)ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၇။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁/၂၀၁၃ ဖြင့် ထုတ်ပြန်ထားသည့် အခြားခွင့်ပြုချက်ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများ စာရင်း တွင်ပါဝင်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ပြုလုပ်နိုင်သည့် လုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။

၁၈။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၃/၂၀၁၄ (၁၆-၁-၂၀၁၄) အစည်းအဝေးသို့ တင်ပြ ဆွေးနွေးပြီး ဖြစ်ပါသည်။

၁၉။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့၏ ၂၀၁၄ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် အစည်းအဝေးအမှတ်စဉ် (၆/၂၀၁၄) မှ သဘောတူ ခွင့်ပြု ပြီး ဖြစ်ပါသည်။

၂၀။ **ဆုံးဖြတ်ရန်အချက်။** သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yoma Sun Co., Ltd.. မှ ဆန်စပါး စိုက်ပျိုး ထုတ်လုပ်ခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်း၊ စိုက်ပျိုးရေးနှင့် ရိတ်သိမ်းချိန်လွန်နည်းပညာရပ်များ အသုံးချ လုပ်ဆောင်ခြင်း၊ အရည်အသွေးမီအဆင့်မြင့် ဆန်နှင့် ပေါင်းဆန်ကြိတ်ခွဲမှုလုပ်ငန်းများ လုပ်ဆောင်ခြင်း၊ အဆင့်မြင့် ဆန်စပါး သိုလှောင်ရုံ လုပ်ငန်းများ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)